ကန့်သတ်

ကုမ္ပဏီအမည် - CJ Feed Myanmar Company Limited

လုပ်ငန်း - ရာခိုင်နှုန်းပြည့် တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၅-၄-၂၀၁၇ | | |
| ၂ | PAT တင်ပြခြင်း (၁၁/၂၀၁၇) | ၁၀-၄-၂၀၁၇ | | |
| | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၀-၄-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၉-၅-၂၀၁၇ | ၅-၆-၂၀၁၇ | |
| | (ခ)ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီး ဌာန၊ | ၁၈-၄-၂၀၁၇ | ၂၈-၄-၂၀၁၇ | |
| ၄ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၇-၄-၂၀၁၇ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ ကုမ္ပဏီမှ ပြန်လည်တင်ပြခြင်း | ၇-၆-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှအဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | - | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | ၈-၆-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၇၂ ရက် | | |

၂

ကုမ္ပဏီအမည် CJ Feed Myanmar Co., Ltd.
အဖွဲ့အစည်းပုံသဏ္ဍာန် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်-၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇
စုစုပေါင်းမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၁၀.၇၀ သန်း
ရောင်းချမည့်စနစ် ၁၀၀% ပြည်တွင်းရောင်း
လုပ်ငန်းသက်တမ်း ကနဦး ၅၀ နှစ်
အရင်းကြေကာလ ၇ နှစ် ၅ လ
IRR ၁၇.၈ %

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၃၄.၇၈၄ | |
| ၄ | ဝင်ငွေခွန် | ၃၀၉၈.၉၉၃ | ၆၀၈၂.၉၁၀ |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၄၅၅၄.၀၀၀ |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၇ | CSR ( 1%) | | ၁၈၆.၁၈၉ |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၂၇ ဦး<br>ပြည်ပ ၅ ဦး<br>ပြည်တွင်းလုပ်သား (၁၂၇) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ၃၉၃၅.၉၃၇ | ၁၀၉၂၃.၇၆၄ |
| | Cost & Benefit | ၁ :၃ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CJ Feed Myanmar Company Limited မှ တိရစ္ဆာန်အစာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - CJ Feed Myanmar Company Limited<br>Mr. Kwang Ho Jeong (Korean) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- CJ Global Holdings Limited (Hong Kong) ၉၉.၉၉%<br>- Mr. Kwang Ho Jeong (Korean) ၀.၀၁ % |
| | လုပ်ငန်းအမျိုးအစား | - တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးသိန်းလွင် |
| | မြေအကျယ်အဝန်း | - ၁၂.၃၆၆ ဧက (၅၃၈၆၅၀ စတုရန်းပေ)(၅၀၀၄၃.၄၂ စတုရန်းမီတာ) |
| ၃။ | မြေငှားရမ်းခနှုန်း | - တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၈၃၉.၂၇ နှုန်းဖြင့် ၅၀၀၄၃.၄၂ စတုရန်း မီတာအတွက် ကျပ် ၄၂,၀၀၀,၀၀၀ |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - **US$ ၁၆.၇၀ သန်း** |
| | ထည့်ဝင်သည့်အမျိုးအစား | **US$/သန်း**<br>ငွေသား - ၁၀.၇၀<br>ချေးငွေ - ၆.၀၀<br>**စုစုပေါင်း** - **၁၆.၇၀** |
| ၆။ | ဝန်ထမ်းအင်အား | - **၁၃၂ ဦး** |
| | ပြည်တွင်း | - ၁၂၇ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၂၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၃,၃၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၅ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၃,၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၂၂,၀၀၀,၀၀၀ ဖြစ်ပါသည်။) |

၇။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

၈။ ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်) - ကျပ် ၇၃၄၉၁.၉၉ သန်း

ကုမ္ပဏီ၏ အသုံးစရိတ် (၆ နှစ်မြောက်) - ကျပ် ၆၉၇၉၆.၈၃ သန်း

ကုမ္ပဏီ၏ အသားတင်အမြတ် (၆ နှစ်မြောက်) - ကျပ် ၃၆၉၅.၁၆ သန်း

(1 US $ = 1216 Kyats ဖြင့် တွက်ချက်ထားပါသည်။)

၉။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(ပုံမှန်နှစ် ၆ နှစ်မြောက်)

ဝင်ငွေခွန် - ကျပ် ၁၂၀၇.၃၉ သန်း

အရင်းကြေကာလ - ၇ နှစ် ၅ လ

အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) - ၁၇.၈ %

၁၀။ လျှပ်စစ်ဓာတ်အားလိုအပ်ချက် - ၄၈၆၀၀၀ Kwh

၁၁။ နှစ်စဉ်ထုတ်လုပ်မှု (၆ နှစ်မြောက်)

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /MT) |
|---|---|---|---|
| | ပြည်တွင်း (၁၀၀ %) | | |
| (က) | Broiler Feed | ၆၀,၀၄၆ | ၆၃၅,၀၇၈ |
| (ခ) | Layer Feed | ၃၅,၂၆၂ | ၄၈၀,၃၄၅ |
| (ဂ) | Pig Feed | ၂၄,၆၉၂ | ၇၄၅,၉၉၂ |

၁၂။ အခြားတင်ပြချက်

- မြေအထောက်အထားအဖြစ် ဦးသိန်းလွင်အမည်ဖြင့် မြေကွက်အမှတ် ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇ များတွင် စက်မှုလက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့်ရရှိထားသည့် အထောက်အထားတင်ပြထားပါသည်။
- မြေပိုင်ရှင် ဦးသိန်းလွင်နှင့် CJ Feed Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) ကို တင်ပြထားပါသည်။
- CJ Feed Myanmar Company Limited ၏ MOA, AOA မူကြမ်း၊ အဆောက်အဦ Layout Plan တို့ကို တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၃။ | **စိစစ်တွေ့ရှိချက်** | - ငွေရေးကြေးရေး အထောက်အထားအဖြစ် CJ Global Holdings Limited ၏ Annual Audit Report နှင့် CJ Cheiljedang ၏ Credit of Deposit တင်ပြထားပါသည်။<br>- ဒါရိုက်တာစာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ အလုပ်သမား များလစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုစာ၊ CSR Project နှင့် Waste Water Treatment တို့ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ထုတ်လုပ်မည့် ပစ္စည်းများ၏ ထုတ်လုပ်မည့် ပစ္စည်းများ ၏ ထုတ်လုပ်ပုံ အဆင့်ဆင့် တင်ပြထားပါသည်။<br>- သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ EIA အစီရင်ခံစာ ရေးဆွဲတင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၅ (က)အရ ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်-၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင်ပါဝင်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၂)တွင်ပါဝင် ပြီး ဝင်ငွေခွန် (၅)နှစ်ခံစားနိုင်မည် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် MIC ခွင့်ပြုမိန့် ရရှိပြီး (၃)နှစ်မြောက်တွင် မြန်မာနိုင်ငံတွင် ဘဏ်ခွဲရှိသော နိုင်ငံခြားဘဏ်မှ ချေးငွေ US$ ၆.၁၀ သန်း ရယူဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် Loan Repayment Statement တင်ပြထားပါသည်။<br>- စက်ပစ္စည်းစာရင်းများအား တင်သွင်းမည့် စက်ပစ္စည်း စာရင်းနှင့် ကုန်ကြမ်းစာရင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရက်ရန်အတွက် အဆောက်အဦ (၂၅)လုံးဆောက်လုပ်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/န-၁၆၇/၂၀၁၇( ၄၆၃ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CJ Feed Myanmar Co., Ltd. မှ တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ ဟောင်ကောင် CJ Global Holdings Limited မှ ၉၉. ၉၉% နှင့် ကိုရီးယားသမ္မတနိုင်ငံ Mr. Kwang Ho Jeong မှ ၀.၀၁ % အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇ ရှိ စုစုပေါင်း မြေဧရိယာ ၁၂.၃၆၆ ဧက (၅၃၈၆၅၀ စတုရန်းပေ) ကို ငှားရမ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြ လာပါသည်။

၂။ မြေပိုင်ရှင် ဦးသိန်းလွင် မြေငှားသူ CJ Feed Myanmar Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။ မြေပိုင်ရှင် ဦးသိန်းလွင် အမည်ဖြင့် ရရှိထားသော စက်မှု လက်မှု လုပ်ငန်းအတွက် မြေအသုံးပြုခွင့် တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၁၂.၃၆၆ ဧက (၅၀၀၄၃.၄၂ စတုရန်းမီတာ) ဖြစ်ပြီး တစ်စတုရန်း မီတာလျှင် ၈၃၉.၂၇ ကျပ်နှုန်းဖြင့် တစ်နှစ်လျှင်မြေငှားရမ်းခ ၄၂,၀၀၀,၀၀၀ ကျပ်ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၂ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၆.၇၀ သန်း ဖြစ်၍ အောက်ပါအတိုင်းထည့်ဝင်ထားပါသည်-

**US$/သန်း**

ငွေသား - ၁၀.၇၀

ချေးငွေ - ၆.၀၀

**စုစုပေါင်း** - **၁၆.၇၀**

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁,၂၁၆ ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၁၂၇) ဦးနှင့် ပြည်ပဝန်ထမ်း(၅) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၁၃၂ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၂၂၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၃,၃၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၃,၃၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ်၂၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (ကျပ် /MT) |
|---|---|---|---|
| | **ပြည်တွင်း (၁၀၀ %)** | | |
| (က) | Broiler Feed | ၆၀,၀၄၆ | ၆၃၅,၀၇၈ |
| (ခ) | Layer Feed | ၃၅,၂၆၂ | ၄၈၀,၃၄၅ |
| (ဂ) | Pig Feed | ၂၄,၆၉၂ | ၇၄၅,၉၉၂ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇၃၄၉၁.၉၉ |
| (ခ) | အသုံးစရိတ် | ၆၉၇၉၆.၈၃ |
| (ဂ) | အသားတင်အမြတ် | ၃၆၉၅.၁၆ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ အနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၁၂၀၇.၃၉ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၇ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၇.၈ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ ၁-၆-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂၀/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ် (၄၉)အရ ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ သဘောထား ပြန်ကြားစာတွင် အဓိက ပါဝင်သော အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်- **နောက်ဆက်တွဲ -ခ**

(၁) အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၉၊ ၆၃ နှင့်အညီ ဆောင်ရွက် ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်း အဆိုပြုသူသည် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြ ချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ် အတိုင်း အတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်း တာဝန်များ ကို လမ်းညွှန်ချက်များ နှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့

တင်ပြအတည်ပြုချက် ရယူရန်၊ အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက် များအပေါ် အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃)ပါ အချက်များ နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်။

(၂) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲ တင်ပြရန်။

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် CJ Global Holdings Limited ၏ Annual Audit Report နှင့် CJ Cheiljedang ၏ Credit of Deposit တင်ပြထားပါသည်။

၁၂။ CJ Feed Myanmar Company Limited မှ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်၊ Waste Water Treatment အစီအစဉ်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၁/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ EIA အစီရင်ခံစာ ရေးဆွဲ တင်ပြရန် သဘောထားမှတ်ချက်ပြုထားပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု

နည်းဥပဒေ ၅ (က)အရ ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်သည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၂)တွင်ပါဝင်ပြီး ဝင်ငွေခွန် (၅)နှစ်ခံစားနိုင်မည် ဖြစ်ပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် MIC ခွင့်ပြုမိန့် ရရှိပြီး (၃)နှစ်မြောက်တွင် မြန်မာနိုင်ငံတွင် ဘဏ်ခွဲရှိသော နိုင်ငံခြားဘဏ်မှ ချေးငွေ US$ ၆.၀၀ သန်း ရယူဆောင်ရွက်မည် ဖြစ်ကြောင်းနှင့်Loan Repayment Statement တင်ပြထားပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ CJ Feed Myanmar Company Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

၁၂

CJ Feed Myanmar Company Limited ၏

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | CJ Feed Myanmar Company Limited | CJ Global Holdings Limited Represented by, | Suite 3003, 30/F, Central Plaza, 18 Harbour Road, Wanchai, Hong Kong |
| | | (a) Mr. Kwang Ho Jeong Korean PP.N0:7502464 Director | 401 Ho, Baikje Gobun Ro 9 Gil 22 (Jamsil Dong), Song Pa Gu, Seoul, Korea |
| | | (b) Mr. Byoung Soo Lee Korean PP.No:M11289596 Director | Ricentz APT, 215-603, 135 Olympic-ro, Songpa-gu, Seoul, Korea |
| | | (c) Mr. Kwang Jae Ha Korean PP.No:M39763126 Director | 1704 Ho, 102 Dong, 30, Jongam-ro 25-gil, Seongbuk-gu, Seoul, Republic of Korea |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၂၆၁၄၅၂၆၂၀

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - MS. LEE DAJEONG

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တိရစ္ဆာန်အစာ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ကန့်သတ်

နောက်ဆက်တွဲ-က




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန် လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၅.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/န-၁၇၃/၂၀၁၇(၃၇၀)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင် CJ Global Holdings Limited မှ ၉၉.၉၉% နှင့် ကိုရီးယားသမ္မတနိုင်ငံ Mr. Kwang Ho Jeong မှ ၀.၀၁ % အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်-၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇ ရှိ မြေဧရိယာ ၁၂.၃၆၆ ဧက (၅၀၀၄၃.၄၂၆၅ စတုရန်းမီတာ)တွင် တိရစ္ဆာန်အစာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁.၆.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၉)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မှော်ဘီမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
CJ Feed Myanmar Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/20.(7)

နောက်ဆက်တွဲ-ခ

MIC 120 28/4




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၁၁/ MIC(OSS) /၀၁(၁၁၈/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CJ Feed Myanmar Company Limited မှ ကြက်စာ၊ ဘဲစာ၊ ဝက်စာ၊ ကျွဲနွားစာ၊ ပုဇွန်စာ၊ ငါးစာနှင့် အစာမျိုးစုံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၇၃/ ၂၀၁၇(၃၃၁)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင် CJ Global Holdings Limited မှ ၉၉.၉၉% နှင့် ကိုရီးယားသမ္မတနိုင်ငံ Mr. Kwang Ho Jeong မှ ၀.၀၁% အစုရှယ်ယာများထည့်ဝင်ကာမြန်မာနိုင်ငံတွင် CJ Feed Myanmar Company Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာ သံမဏိစက်မှုဇုန်၊ မြေကွက်အမှတ်- ၁၉၂၊ ၁၉၃၊ ၁၉၄၊ ၁၉၅၊ ၁၉၆၊ ၁၉၇ ရှိမြေဧရိယာ ၁၂.၃၆၆ ဧက (၅၀,၀၄၃.၄၃ စတုရန်းမီတာ) တွင်ကြက်စာ၊ ဘဲစာ၊ ဝက်စာ၊ ကျွဲနွားအစာ၊ ပုဇွန်စာ၊ ငါးစာနှင့်အစာမျိုးစုံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထား မှတ်ချက်ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၁၂) လဖြစ်ကြောင်း၊ မြေဧရိယာအကျယ်အဝန်း ၁၂.၃၆၆ ဧက (စတုရန်းမီတာ ၅၀,၀၄၃.၄၃) ပေါ်တွင် တိရစ္ဆာန်အစားအစာထုတ်လုပ်ရန် စုစုပေါင်းအဆောက်အဦ (၂၅) လုံးကို တည်ဆောက်သွားမည်ဖြစ်ကြောင်း၊

(ခ) ထုတ်လုပ်မှုအနေဖြင့်တစ်ရက်လျှင်တန်(၃၀၀) အထက်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုစီမံကိန်းအတွက် ရေဆိုးသန့်စင်ခြင်းစနစ်ကို တည်ဆောက်မည်ဖြစ်ပြီး စံချိန်စံညွှန်းစမ်းသပ်ရန်အတွက် ဓာတ်ခွဲခန်းထည့်သွင်းတည်ဆောက်မည်ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပြု CJ Feed Myanmar Company Limited မှ ကြက်စာ၊ ဘဲစာ၊ ဝက်စာ၊ ကျွဲနွားအစာ၊ ပုဇွန်စာ၊ ငါးစာနှင့်အစာမျိုးစုံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့်ထွက်ရှိလာမည့် အမှုန့်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) အဆိုပြုစီမံကိန်းမှ တိရိစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် အသုံးပြုမည့် ကုန်ကြမ်းများမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်/အစိုင်အခဲများကို စနစ်တကျ စွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင် ရေထုနှင့် မြေထုညစ်ညမ်းခြင်း၊ ထွက်ရှိလာမည့် အမှုန့်အမွှားများ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်ကို အနှောင့်အယှက်ဖြစ်စေခြင်း၊ အနံ့အသက်ဆိုးများကြောင့် ပတ်ဝန်းကျင်ရှိပြည်သူများအား ကျန်းမာရေးထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်စေနိုင်ခြင်း၊

၄။ သို့ဖြစ်ပါ၍ CJ Feed Myanmar Company Limited မှ ကြက်စာ၊ ဘဲစာ၊ ဝက်စာ၊ ကျွဲနွားအစာ၊ ပုဇွန်စာ၊ ငါးစာနှင့်အစာမျိုးစုံ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဥ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင်နေထိုင်သောဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ